بسم الله الرحمن الرحيم

# အလ်ဖိက်ဟုလ် အက်ဗရ်

## အီမာန်၏ အခြေခံများ

သောင်ဟီးဒ် (တစ်ပါးတည်းသောအရှင်ကို ကိုးကွယ်ခြင်းဝါဒ)၏ အခြေခံနှင့် ယုံကြည်မှုမှန် ကန်ရန်မှာ အောက်ပါတို့ကို ပြောဆို(ယုံကြည်)ဖို့ အရေးကြီးပေသည်။

**၁။** အလ္လာဟ်နှင့် ထိုအရှင်၏ ကောင်းကင်တမန်များ၊ ကျမ်းဂန်များ၊ ရစူလ်တမန်တော်များနှင့် သေပြီးနောက် ပြန်လည်ရှင်ထရမည့်အကြောင်း၊ အကောင်းအဆိုး သတ်မှတ်ချက်သည် အလ္လာဟ်ဘက်မှ ဖြစ်ကြောင်း၊ စာရင်းအင်း စစ်ကြောခြင်းနှင့် မီဇာန်ချိန်ခွင်၊ ဂျန္နသ်သုခဘုံနှင့် ငရဲဘုံ ဤအရာအားလုံးသည် အမှန်ပင်ဖြစ်သည်ဟု ကျွန်ုပ်ယုံပါသည်။

## အလ္လာဟ်အရှင်မြတ်၏ သောင်ဟီးဒ်အကြောင်း

**၂။** အလ္လာဟ်အရှင်မြတ်သည် တစ်ဆူတည်းသာ ဖြစ်သည်။ အရေအတွက်အရ ဆိုလိုခြင်း မဟုတ်။ အလ္လာဟ်အရှင်မြတ်နှင့်အတူ အခြားတွဲဘက်မရှိဟု ဆိုလိုခြင်း ဖြစ်သည်။

112|1| (အို-နဗီတမန်တော်) အသင်သည် ပြောကြားပါလေ။ ထိုအလ္လာဟ်အရှင်မြတ်သည် တစ်ဆူတည်း ဖြစ်တော်မူ၏။

112|2| အလ္လာဟ်အရှင်မြတ်သည် လိုလားတောင့်တခြင်း လုံးဝ ကင်းရှင်းတော်မူသောအရှင်၊ သူတစ်ပါးတို့၏ မှီခိုအားထားရာအရှင်၊ နိစ္စထာဝရအရှင် ဖြစ်တော်မူ၏။

112|3| ထိုအရှင်မြတ်သည် မည်သူတစ်ဦးတစ်ယောက်ကိုမျှ မွေးဖွားတော်မူခဲ့သည် မဟုတ်ပေ။ မည်သူတစ်ဦးတစ်ယောက်၏ မွေးဖွားခြင်းကိုလည်း ခံခဲ့ရတော်မူသည် မဟုတ်ပေ။

112|4| ထိုမှတစ်ပါး ထိုအရှင်မြတ်၌ ဂုဏ်ရည်တူသူဟူ၍လည်း တစ်ဦးတစ်ယောက်မျှပင် မရှိပေ။

**၃။** အရှင်မြတ်သည် မိမိအဖန်ဆင်းခံများအနက် မည်သည့်အရာနှင့်မျှ မတူဆင်ပေ။ အရှင် မြတ်၏ အဖန်ဆင်းခံတို့ထဲမှ မည်သည့်အရာကမျှလည်း ထိုအရှင်နှင့် မတူဆင်ပေ။

**၄။** အလ္လာဟ်အရှင်မြတ်သည် မိမိ၏နာမတော်များ၊ ဇာတိတော်၏ ဂုဏ်ရည်ဝိသေသများနှင့် လုပ်ရပ်ဆိုင်ရာ ဂုဏ်ရည်ဝိသေသများဖြင့် အမြဲရှိခဲ့သည်။ ရှိနေသည်။

## ဇာတိတော်နှင့် လုပ်ရပ်ဆိုင်ရာ ဂုဏ်ရည်ဝိသေသများ

**၅။** ဇာတိတော်၏ ဂုဏ်ရည်ဝိသေသများဟူသည် အသက်ရှင်သန်ခြင်း၊ တတ်စွမ်းနိုင်ခြင်း၊ သိခြင်း၊ စကားပြောခြင်း၊ ကြားခြင်း၊ မြင်ခြင်း၊ ဆန္ဒပြုခြင်းတို့ဖြစ်သည်။ လုပ်ရပ်ဆိုင်ရာ ဂုဏ်ရည် ဝိသေသများ ဟူသည်မှာ ဖန်ဆင်းခြင်း၊ ရိက္ခာကျွေးမွေးခြင်း၊ ဖြစ်ပေါ်စေခြင်း၊ စတင် ဖန်ဆင်းခြင်း၊ ပြုလုပ်ခြင်း အစရှိသည့် လုပ်ရပ်ဆိုင်ရာ ဂုဏ်ရည်စွေဖားသ်များ ဖြစ်သည်။

**၆။** အလ္လာဟ်အရှင်မြတ်သည် မိမိနာမတော်များ၊ စွေဖားသ်ဂုဏ်ဝိသေသများနှင့် အတူ အမြဲ ရှိခဲ့သည်။ ရှိနေသည်။ အရှင်မြတ်အတွက် နာမည်တစ်ခုခု၊ သို့မဟုတ် ဂုဏ်ဝိသေသတစ်ခုခု နောက်မှ ဖြစ်ပေါ်လာခဲ့သည်ဟူ၍ မရှိပေ။

# အလ္လာဟ်အရှင်မြတ်၏ စွေဖားသ်တော်များသည် အစမရှိသည့် အချိန်က တည်းက ရှိခြင်း

**၇။** အရှင်မြတ်သည် မိမိ၏အသိဖြင့် အမြဲသိနေခဲ့သည်။ အရှင်မြတ်၏ သိခြင်းသည် အစမရှိ သောအချိန်ကတည်းက ရှိခဲ့သော ဂုဏ်ရည်ဝိသေသတစ်ခု ဖြစ်သည်။

**၈။** ထို့ပြင် အရှင်မြတ်သည် မိမိ၏ တတ်စွမ်းနိုင်မှုဖြင့် အမြဲတတ်စွမ်းနိုင်ခဲ့သည်။ အရှင်မြတ်၏ တတ်စွမ်းနိုင်မှုသည် အစမရှိသောအချိန်ကတည်းက ရှိခဲ့သော ဂုဏ်ရည် ဝိသေသတစ်ခု ဖြစ်သည်။

**၉။** ထို့ပြင် အရှင်မြတ်သည် မိမိ၏စကားဖြင့် အမြဲစကားပြောသူဖြစ်ခဲ့သည်။ အရှင်မြတ်၏ စကားပြောခြင်းသည် အစမရှိသောအချိန်ကတည်းက ရှိခဲ့သော ဂုဏ်ရည်ဝိသေသတစ်ခု ဖြစ် သည်။

**၁၀။** ထို့ပြင် အရှင်မြတ်သည် မိမိ၏ဖန်ဆင်းမှုဖြင့် အမြဲဖန်ဆင်းသူဖြစ်ခဲ့သည်။ အရှင်မြတ်၏ ဖန်ဆင်းခြင်းသည် အစမရှိသောအချိန်ကတည်းက ရှိခဲ့သော ဂုဏ်ရည်ဝိသေသတစ်ခု ဖြစ်သည်။

**၁၁။** ထို့ပြင် အရှင်မြတ်သည် မိမိ၏အလုပ်ဖြင့် အမြဲပြုလုပ်သူဖြစ်ခဲ့သည်။ အရှင်မြတ်၏ ပြုလုပ်ခြင်းသည် အစမရှိသောအချိန်ကတည်းက ရှိခဲ့သော ဂုဏ်ရည်ဝိသေသတစ်ခု ဖြစ်သည်။ ပြုလုပ်သူမှာ အလ္လာဟ်ဖြစ်သည်။ ပြုလုပ်ခြင်းသည် အစမရှိသောအချိန်ကတည်းက ရှိခဲ့သော ဂုဏ်ရည်ဝိသေသ တစ်ခုဖြစ်သည်။ ပြုလုပ်ခြင်းခံရသူမှာ အဖန်ဆင်းခံဖြစ်သည်။ အလ္လာဟ် အရှင်မြတ်၏ လုပ်ရပ်သည် အဖန်ဆင်းခံမဟုတ်ပေ။

**၁၂။** အရှင်မြတ်၏ စွေဖားသ်ဂုဏ်ရည်များသည် အစမရှိသည့်အချိန်ကတည်းက ရှိခဲ့သည်။ နောက်မှ ဖြစ်ပေါ်လာသည်မဟုတ်၊ ဖန်ဆင်းခြင်းခံရသည်လည်း မဟုတ်ပေ။ အလ္လာဟ်အရှင် မြတ်၏ စွေဖားသ်ဂုဏ် ရည်များသည် ဖန်ဆင်းခံဖြစ်သည်၊ သို့မဟုတ် နောက်မှ ဖြစ်ပေါ်လာသည်ဟု ပြောသောသူ၊ သို့မဟုတ် မည်သို့

မျှမပြောဘဲ ကြား၍နေသူ၊ သို့မဟုတ် သံသယဖြစ်သူသည် အလ္လာဟ်အရှင်မြတ်ကို ငြင်းပယ်သူ ဖြစ်သည်။

## ကုရ်အာန်ကျမ်းတော်မြတ်

**၁၃။** ကုရ်အာန်ကျမ်းတော်မြတ်သည် ကျမ်းစာများတွင် ရေးသားထားသော၊ နှလုံးများတွင် ထိန်းသိမ်းခြင်းခံထားရသော၊ နှုတ်လျှာများပေါ်တွင် ဖတ်ရွတ်ခြင်းခံရသော၊ တမန်တော်မြတ် (ဆွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်) အပေါ်တွင် ချပေးခြင်းခံရသော အလ္လာဟ်အရှင်မြတ်၏ စကားတော်ဖြစ်သည်။ ကုရ်အာန်ကို ဖတ်ရွတ်သည့် ကျွန်ုပ်တို့၏ စကားလုံးက အဖန်ဆင်းခံ ဖြစ်သည်။ ကုရ်အာန်ကို ရေးသားသည့် ကျွန်တော်တို့၏ ရေးသားမှုက အဖန်ဆင်းခံဖြစ်သည်။ ကုရ်အာန်ကို ဖတ်ရွတ်သည့် ကျွန်ုပ်တို့၏ ဖတ်ရွတ်ခြင်းက အဖန်ဆင်းခံဖြစ်သည်။ ကုရ်အာန်ကတော့ အဖန်ဆင်းခံမဟုတ်ပေ။

**၁၄။** ကုရ်အာန်ထဲတွင် အလ္လာဟ်အရှင်မြတ်က တမန်တော်မူစာနှင့် အစရှိသည့် နဗီတမန်တော်များအကြောင်း၊ ဖိရ်အောင်နှင့် အိဗ်လီးစ်တို့အကြောင်း ပြောပြထားချက်များ အားလုံးသည် ၎င်းတို့နှင့် ပတ်သက်၍ သတင်းပေးထားသော အလ္လာဟ်အရှင်မြတ်၏ စကားတော်ဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ စကားတော်သည် အဖန်ဆင်းခံမဟုတ်။ တမန်တော်မူစာနှင့် အစရှိသည့် အဖန်ဆင်းခံတို့၏ စကားသည် အဖန်ဆင်းခံဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ စကားတော်သည် အစမရှိသည့် အချိန်ကတည်းက စကားဖြစ်သည်။ ၎င်းတို့၏ စကားမှာမူ ထိုသို့ မဟုတ်ပေ။

**၁၅။** မူစာနဗီသည် အလ္လာဟ်အရှင်မြတ်၏ စကားတော်ကို ကြားခဲ့သည်။ အလ္လာဟ်မိန့်တော်မူသည့် အတိုင်းပင်။ ((အလ္လာဟ်အရှင်မြတ်သည် မူစာကို စကားပြောတော်မူခဲ့သည်။))

အလ္လာဟ်အရှင်မြတ်သည် မူစာ(အလိုင်ဟိစ္စလာမ်)ကို စကားမပြောခင်ကပင် စကားပြောတော်မူသော အရှင်ဖြစ်ခဲ့သည်။ ထို့ပြင် အလ္လာဟ်အရှင်မြတ်သည် အဖန်ဆင်းခံများကို မဖန်ဆင်းခင်ကပင် ဖန်ဆင်းရှင်ဖြစ်တော်မူခဲ့သည်။ အလ္လာဟ်

အရှင်မြတ်နှင့် တူဆင်သည့်အရာ မည်သည့်အရာမျှမရှိပေ။ အရှင်မြတ်သည် အလွန် ကြားတော်မူသော၊ အလွန်မြင်တော်မူသော အရှင်ဖြစ်ပေသည်။

အလ္လာဟ်အရှင်မြတ်သည် မူစာ (အလိုင်ဟိစ္စလာမ်)ကို စကားပြောတော်မူတုန်းက အစမရှိ သည့် အချိန်ကတည်းက အရှင်မြတ်၏ ဇွေဖားသ်ဂုဏ်ရည်အဖြစ် ရှိခဲ့သော မိမိ၏ စကားတော်ဖြင့် ပြောတော်မူခဲ့ခြင်း ဖြစ်သည်။

## အလ္လာဟ်အရှင်မြတ်၏ ဇွေဖားသ် ဂုဏ်ရည်ဝိသေသများသည် နောက်မှဖြစ် ပေါ်လာသော အရာများနှင့် မတူခြင်း။

**၁၆။** အလ္လာဟ်အရှင်မြတ်၏ ဇွေဖားသ်ဂုဏ်ရည်တော်များအားလုံးသည် အဖန် ဆင်းခံတို့၏ ဇွေဖားသ် ဂုဏ်အရည်အချင်းများနှင့် မတူပေ။

**၁၇။** အရှင်မြတ်က သိတော်မူသည်။ သို့သော် ကျွန်ုပ်တို့ သိသလိုမဟုတ်ပေ။

**၁၈။** အရှင်မြတ်က တတ်စွမ်းနိုင်တော်မူသည်။ သို့သော် ကျွန်ုပ်တို့ တတ်စွမ်းနိုင် သလို မဟုတ်ပေ။

**၁၉။** အရှင်မြတ်က မြင်တော်မူသည်။ သို့သော် ကျွန်ုပ်တို့ မြင်သလိုမဟုတ်ပေ။

**၂၀။** အရှင်မြတ်က ကြားတော်မူသည်။ သို့သော် ကျွန်ုပ်တို့ ကြားသလိုမဟုတ်ပေ။

**၂၁။** အရှင်မြတ်က စကားပြောတော်မူသည်။ သို့သော် ကျွန်ုပ်တို့ စကားပြောသလို မဟုတ်ပေ။ ကျွန်ုပ်တို့က ကိရိယာ၊ အသုံးတော်ခံများ(ဋ္ဌာန်၊ ကရိုးဏ်၊ အသံ)၊ စကားလုံးများဖြင့် ပြောကြသည်။ အလ္လာဟ်အရှင်မြတ်က ကိရိယာတန်ဆာပလာ မပါဘဲ၊ စကားလုံးများမပါဘဲ စကားပြောတော်မူသည်။

**၂၂။** စကားလုံးများသည် အဖန်ဆင်းခံများဖြစ်သည်။ အလ္လာဟ်အရှင်မြတ်၏ စကားသည် အဖန်ဆင်းခံမဟုတ်ပေ။

## သောင်ဟီးဒ်၏ အချက်အချာ

၂၃။ အရှင်မြတ်သည် အရာတစ်ခုခုဖြစ်သည်။ သို့သော် အခြားအရာများကဲ့သို့ မဟုတ်ပေ။

၂၄။ အရှင်မြတ်ကို အရာတစ်ခုခုဖြစ်သည်ဟု နားလည်ရမည့်သဘာမှာ အရှင်မြတ်ကို ခန္ဓာမပါဘဲ၊ အချက်အချာရင်းမြစ်မပါဘဲ၊ ခန္ဓာပေါ်မှီ၍နေရသောအရာ မပါဘဲ အတည်ပြုခြင်းကို ဆိုလိုပေသည်။

၂၅။ အရှင်မြတ်တွင် အကန့်အသတ်မရှိပေ။

၂၆။ အရှင်မြတ်မှာ ဆန့်ကျင်ဘက်၊ ဂုဏ်ပြိုင်ဟူ၍ မရှိပေ။

၂၇။ အရှင်မြတ်မှာ ပုံစံတူဟူ၍ မရှိပေ။

## သောင်ဟီးဒ်နှင့်စွေဖားသ်တွင် မရှင်းလင်းသော အာယတ်တော်များကို ပုံစံ မပါဘဲ အလ္လာဟ်အရှင်မြတ်ထံသို့သာ လွှဲအပ်ရခြင်း။

၂၈။ အလ္လာဟ်အရှင်မြတ်မှာ ကုရ်အာန်ထဲတွင် အလ္လာဟ်ကိုယ်တိုင် မိန့်တော်မူထားသလိုပင် လက်၊ မျက်နှာ၊ စိတ်တို့ ရှိသည်။ ကုရ်အာန်ထဲတွင် အလ္လာဟ်အရှင်မြတ်က မိမိအတွက် မိန့် တော်မူထားသည့် မျက်နှာ၊ လက်၊ စိတ်တို့သည် အရှင်မြတ်၏ စွေဖားသ် ဂုဏ်ရည်ဝိသေသများ ဖြစ်ကြသည်။ ယင်းစွေဖားသ်များ၏ ပုံစံအနေအထားကို မသိရပေ။

၂၉။ အရှင်မြတ်၏ လက်ဆိုသည်မှာ အရှင်မြတ်၏ တတ်စွမ်းနိုင်မှု၊ သို့မဟုတ် ကျေးဇူးတရား ဖြစ်သည်ဟု မပြောရပေ။ အကြောင်းမှာ ထိုသို့ပြောခြင်းဖြင့် အရှင်မြတ်၏ စွေဖားသ် ဂုဏ်တော်များကို ပယ်ဖျက်ရာ ရောက်ပေသည်။ ထိုသို့ လွှဲပြောင်းဖွင့်ဆိုမှုများသည် ကဒရ်ိဂိုးဏ်ဝင်နှင့် မုအ်သဇိလဟ်ဂိုးဏ်ဝင်တို့၏ အဆို ဖြစ်သည်။

**၃၀။** သို့သော် (ကျွန်တော်တို့ ပြောရမည်မှာ) အရှင်မြတ်၏ လက်သည် အရှင်မြတ်၏ စွေဖသ်ဂုဏ်ရည်ဝိသေသ ဖြစ်သည်။ ဘယ်ပုံဘယ်ပုံဘယ်ဟန် အနေအထားကို မသိရပေ။

**၃၁။** အရှင်မြတ်၏ ဒေါသဖြစ်ခြင်းနှင့် ကျေနပ်ခြင်းတို့သည်လည်း အရှင်မြတ်၏ စွေဖားသ် ဂုဏ်အရည်အချင်းများထဲမှ ဖြစ်သည်။ ပုံစံအနေအထားကို မသိရပေ။

# သက်ဒီးရ်သတ်မှတ်ချက်အကြောင်း

**၃၂။** အလ္လာဟ်အရှင်မြတ်သည် အရာဝတ္ထုများကို ဘာမျှမရှိရာကနေ ဖန်ဆင်းတော်မူခဲ့သည်။ အလ္လာဟ်အရှင်မြတ်သည် အရာဝတ္ထုများကို ယင်းအရာများ မဖြစ်ပေါ်ခင်ကတည်းက အစ မရှိသည့် အချိန်ကတည်းက သိတော်မူခဲ့သည်။

**၃၃။** ထိုအရှင်မြတ်ကပဲ အရာဝတ္ထုများကို သတ်မှတ်စီရင်ဆုံးဖြတ်ခဲ့သည်။

**၃၄။** လောကနှင့်တမလွန်တွင် မည်သည့်အရာမဆို ထိုအရှင်မြတ်၏ သဘောဆန္ဒ၊ အသိ၊ ဆုံးဖြတ်ချက်၊ သတ်မှတ်ချက်၊ ထိန်းသိမ်းထားသော သင်ပုန်းချပ် (လောင်ဟေ့မဟ်ဖူးဇ်)တွင် ရေးမှတ်ထားချက်တို့နှင့် အညီသာ ဖြစ်ရသည်။ သို့သော် ရေးမှတ်ချက်သည် ထိုအရာများ ဖြစ်လာလိမ့်မည်ဟူသော ဖော်ပြချက်အနေနှင့် ရေးမှတ်ထားခြင်း ဖြစ်သည်။ ဖြစ်စေဟု အမိန့်သဘောဖြင့် ရေးမှတ်ထားခြင်း မဟုတ်ပေ။

**၃၅။** စီရင်ဆုံးဖြတ်ခြင်း၊ သတ်မှတ်ခြင်း၊ ဆန္ဒပြုခြင်းတို့သည် အလ္လာဟ်အရှင်မြတ်၏ စွေဖားသ် ဂုဏ်ရည်ဝိသေသများ ဖြစ်သည်။ ယင်းတို့သည် အစ မရှိသည့် အချိန်ကတည်းက ရှိခဲ့သည်။ သူတို့၏ ပုံစံအခြေအနေကို မသိရပေ။

**၃၆။** အလ္လာဟ်အရှင်မြတ်သည် မရှိသောအရာကို မရှိသောအခြေအနေ၌ မရှိသောအရာအဖြစ် သိတော်မူသည်။ ထို့ပြင် ယင်းအရာကို ဖြစ်ပေါ်လာအောင် လုပ်လိုက်လျှင် မည်သို့ဖြစ်မည် ကိုလည်း အရှင်မြတ်က သိတော်မူသည်။

၃၇။ အလ္လာဟ်အရှင်မြတ်သည် ရှိသောအရာကို ရှိသောအခြေအနေ၌ ရှိသောအရာအဖြစ် သိတော်မူသည်။ ထို့ပြင် ယင်းအရာ၏ ပျက်စီးမှုသည် မည်သို့ဖြစ်မည်ကိုလည်း အရှင်မြတ်က သိတော်မူသည်။

၃၈။ အလ္လာဟ်အရှင်မြတ်သည် မတ်တတ်ရပ်နေသောသူကို မတ်တတ်ရပ်နေသော အခြေအနေ၌ မတ်တတ်ရပ်နေသောသူအဖြစ် သိတော်မူသည်။ ထို့ပြင် ထိုင်နေသောသူကို ထိုင်နေသော အခြေအနေ၌ ထိုင်နေသောသူအဖြစ် သိတော်မူသည်။ ထိုသို့သိရာတွင် အရှင်မြတ်၏ အသိသည် ပြောင်းလဲသွားခြင်း၊ သို့မဟုတ် နောက်မှ အရှင်မြတ်အတွက် အသိတစ်ခု အသစ်ဖြစ်ပေါ်လာခြင်းမျိုးတို့ မရှိပေ။

၃၉။ သို့သော် ပြောင်းလဲမှုတို့၊ ကွဲလွဲမှုတို့သည် အဖန်ဆင်းခံများတွင်သာ ဖြစ်ပေါ်သည်။

## သဘာဝခေါ်တ်ခံ

၄၀။ အလ္လာဟ်အရှင်မြတ်သည် အဖန်ဆင်းခံများကို သွေဖည်မှုတို့၊ ယုံကြည်မှုတို့မှ ကင်းစွာ ဖန်ဆင်းတော်မူခဲ့သည်။ ထို့နောက် ၎င်းတို့ကို အမိန့်ပေးခဲ့သည်၊ တားမြစ်ခဲ့သည်။ ထိုအခါ သွေဖည်သူက မိမိ၏လုပ်ရပ်ဖြင့်၊ ငြင်းဆန်မှုဖြင့်၊ အမှန်တရားကို ငြင်းပယ်မှုဖြင့်၊ အလ္လာဟ် အရှင်မြတ်၏ အကူအညီစောင်မမှု မရသောကြောင့် သွေဖည်ခဲ့သည်။ ထို့ပြင် ယုံကြည်သူက မိမိ၏ လုပ်ရပ်ဖြင့်၊ ဝန်ခံမှုဖြင့်၊ ထောက်ခံမှုဖြင့်၊ အလ္လာဟ်အရှင်မြတ်၏ ကူညီစောင်မမှုနှင့် သောင်ဖီးက်ရရှိသောကြောင့် ယုံကြည်ခဲ့သည်။

၄၁။ အလ္လာဟ်အရှင်မြတ်သည် အာဒမ်(အလိုင်ဟိစ္စလာမ်)၏ ကျောရိုးထဲမှ သားစဉ်မြေးဆက်များကို အမှုန်အမွှားကလေးများပမာ ထုတ်ယူတော်မူပြီး ၎င်းတို့ကို အသိဉာဏ်ပေးခဲ့သည်။ ထို့နောက် ၎င်းတို့ကို အီမာန်နှင့်ပတ်သက်၍ အမိန့်ပေးပြီး ကုဖ်ရ်သွေဖည်မှုကနေ တားမြစ်တော်မူခဲ့သည်။ ထိုအခါ ၎င်းတို့သည် အရှင်မြတ်ကို ဖန်ဆင်းမွေးမြူရှင်အဖြစ် ဝန်ခံအသိ အမှတ်ပြုခဲ့ကြသည်။ ထိုအရာသည် ၎င်းတို့၏ အီမာန်သက်ဝင်ယုံကြည်မှု ဖြစ်ခဲ့သည်။ ၎င်းတို့သည် ထိုသဘာဝခါတ်ခံ

အတိုင်း မွေးဖွားခဲ့ကြသည်။ ထို့နောက်တွင် သွေဖည်သည့်သူသည် အပြောင်းအလဲပြုလိုက်ခြင်းသာ ဖြစ်သည်။ အီမာန်သက်ဝင်ယုံကြည်ပြီး ထောက်ခံသူကတော့ ယင်းအပေါ် မြဲမြံစွာရပ်တည်ခြင်းပင် ဖြစ်သည်။

၄၂။ အရှင်မြတ်သည် မိမိအဖန်ဆင်းခံတို့အနက် မည်သူ့ကိုမျှ အတင်းအဓမ္မ ကာဖိရ်ဖြစ်အောင်လည်း မလုပ်၊ မုအ်မင်န်ဖြစ်အောင်လည်း မလုပ်ပေ။ အလ္လာဟ် အရှင်မြတ်သည် ၎င်းတို့ကို မုအ်မင်န်အဖြစ်လည်း ဖန်ဆင်းခဲ့သည်မဟုတ်၊ ကာဖိရ် အဖြစ်လည်း ဖန်ဆင်းခဲ့သည်မဟုတ်ပေ။ လူပုဂ္ဂိုလ်တွေအဖြစ်သာ ဖန်ဆင်းတော်မူခဲ့သည်။ ယုံကြည်မှုနှင့် သွေဖည်မှုသည် ဗန္ဒာတို့၏ လုပ်ရပ်ဖြစ်သည်။

၄၃။ အလ္လာဟ်အရှင်မြတ်သည် သွေဖည်သူကို သူသွေဖည်သောအချိန်တွင် သူ့ကို သွေဖည် သူအဖြစ် သိတော်မူသည်။ ထို့နောက် ၎င်းက အီမာန်သက်ဝင် ယုံကြည်လိုက်လျှင်လည်း အရှင်မြတ်သည် ၎င်းကို သူယုံကြည်သောအချိန်တွင် သူ့ကို ယုံကြည်သူအဖြစ်နှင့် သိတော်မူသည်။ ထို့ပြင် အရှင်မြတ်၏ အသိနှင့် ဂုဏ်ရည် ဝိသေသတို့ မပြောင်းလဲဘဲ အရှင်မြတ်က သူ့ကို ချစ်တော်မူသည်။

၄၄။ ဗန္ဒာကျေးကျွန်တို့၏ လှုပ်ရှားခြင်း၊ ငြိမ်သက်ခြင်းဟူသော လုပ်ရပ်များသည် သူတို့၏ ရှာဖွေရယူခြင်း အမှန်တကယ်ဖြစ်သည်။ အရှင်မြတ်ကတော့ ယင်းလုပ်ရပ်များကို ဖန်ဆင်းသည့်အရှင် ဖြစ်သည်။ ထိုလုပ်ရပ်များအားလုံးသည် အရှင်မြတ်၏ သဘောဆန္ဒ၊ အသိတော်၊ ဆုံးဖြတ်သတ်မှတ်ချက်တို့အရ ဖြစ်ရသည်။

၄၅။ အမိန့်နာခံမှု အားလုံးသည် အလ္လာဟ်အရှင်မြတ်၏ အမိန့်ပေးခြင်း၊ အရှင်မြတ်၏ချစ်ခြင်း၊ နှစ်သက်ခြင်း၊ သိခြင်း၊ ဆန္ဒပြုခြင်း၊ ဆုံးဖြတ်သတ်မှတ်ခြင်းတို့အရ အရေးကြီးတာဝန် (ဝါဂျိဗ်) ဖြစ်ခဲ့သည်။

၄၆။ အမိန့်ဖီဆန်မှုအားလုံးသည် အရှင်မြတ်၏ သိခြင်း၊ ဆုံးဖြတ်သတ်မှတ်ခြင်းတို့နှင့်အညီ ဖြစ်သည်။ သို့သော် အရှင်မြတ်၏ ချစ်ခြင်း၊ နှစ်သက်ခြင်း၊ အမိန့်ပေးခြင်းတို့ မပါဝင်ပေ။

## နဗီတမန်တော်များ အပြစ်ကင်းခြင်း

**၄၇။** နဗီတမန်တော်များအားလုံးသည် အပြစ်ကြီး၊ အပြစ်သေး၊ ကုဖ်ရ်သွေဖည်မှု၊ အပြစ်အနာဆာ အကျည်းတန်စရာတို့မှ ကင်းစင်အောင် ပြုပေးခြင်းခံထားရသည်။ သူတို့မှာ အမှားနှင့် ချွတ်ချော်မှုများတော့ ရှိခဲ့ကြသည်။

## တမန်တော်မြတ်ကြီးမုဟမ္မဒ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)

**၄၈။** မုဟမ္မဒ်(ဆွလ္လလ္လာဟုအလိုင်ဟိဝစလ္လမ်)သည် အရှင်မြတ်၏ အချစ်တော်၊ ရစူလ်နဗီ (တမန်တော်)၊ ရွေးချယ်ခံရသူ၊ သန့်ပြန့်အောင်လုပ်ပေးခြင်းခံရသူ ဖြစ်သည်။ ကိုယ်တော်မြတ်သည် ရုပ်တုကို မကိုးကွယ်ခဲ့ပေ။ အလ္လာဟ်အရှင်မြတ်နှင့်အတူ ယှဉ်တွဲကိုးကွယ်မှုကို မျက်တစ်မှိတ်စာမျှပင် မလုပ်ခဲ့ပေ။ ထို့ပြင် အပြစ်အကြီးရော အသေးကိုပါ ဘယ်တုန်းကမှ မကျူးလွန်ခဲ့ပေ။

## စွဟာဗဟ်တို့တွင် မည်သူပိုမြတ်သနည်း။

**၄၉။** နဗီတမန်တော်များပြီးနောက် လူတို့တွင် အမြတ်ဆုံးသောသူသည် အဗူဗာကရ်(ရသွေ့) ဖြစ်သည်။ ထို့နောက် အုမရ်(ရသွေ့)ဖြစ်သည်။ ထို့နောက် အွဆ်မာန်(ရသွေ့)ဖြစ်သည်။ ထို့နောက် အလီ(ရသွေ့)ဖြစ်သည်။ ၎င်းတို့အားလုံးအပေါ် အလ္လာဟ်အရှင်မြတ်၏ နှစ်သက်မှု ကျရောက်ပါစေ။ သူတို့သည် (စစ်မှန်သော) ကိုးကွယ်သူများ၊ အမှန်တရားအပေါ် မြဲမြံစွာ ရပ်တည်သူများ ဖြစ်ကြသည်။ ကျွန်တော်တို့သည် သူတို့ အားလုံးကို တရားဘောင်အတွင်းမှ အချစ်ထားပါသည်။

**၅၀။** ကျွန်ုပ်တို့သည် တမန်တော်မြတ်(ဆွ)၏ စွဟာဗဟ်သာဝကများထဲမှ မည်သူ့ကိုမျှ မကောင်း မပြောပါ။ အကောင်းသာ ပြောသည်။

# အပြစ်ကျူးလွန်ခြင်းအပေါ် မွတ်စ်လင်မ်ကို ကာဖိရ်ဟု မသတ်မှတ်ခြင်း

**၅၁။** မွတ်စ်လင်မ်တစ်ယောက်သည် အပြစ်ကြီးတစ်ခုကို ကျူးလွန်လင့်ကစား အကယ်၍ သူသည် ယင်းအပြစ်ကို ဟလာလ်(ပြုပိုင်သည်)ဟု မမှတ်ယူပါက ကျွန်ုပ်တို့က သူ့ကို ကာဖိရ်ဟု မသတ်မှတ်ပါ။ မုအ်မင်န်ဆိုသည့် အမည်ကို သူ့ထံမှ ကျွန်ုပ်တို့ မဖယ်ရှားပါ။ သူ့ကို ကျွန်ုပ်တို့ သည် မွတ်စ်လင်မ် ဖြစ်သည်ဟုပင် အမှန်တကယ် အမည်တပ်သည်။ သူသည် ကာဖိရ် မဟုတ်သော၊ အပြစ်ကျူးလွန်သည့် မွတ်စ်လင်မ် ဖြစ်နိုင်ပါသည်။

# အဟ်လေ့စွန္နသ်၏ အချို့ယုံကြည်ချက်များ

**၅၂။** ခြေစွပ်နှစ်ခုပေါ်တွင်(စည်းကမ်းချက်များနှင့်အညီ) မစပ်ပွတ်သပ်ခြင်းသည် စွန္နသ်ဖြစ်သည်။

**၅၃။** ရမဒွါန်၏ ညဥ့်များတွင် သရာဝီးဟ်စွလားသ်ဝတ်ပြုခြင်းသည် စွန္နသ်ဖြစ်သည်။

**၅၄။** မုအ်မင်န်တို့အနက် ကောင်းသူဖြစ်စေ၊ မကောင်းသူဖြစ်စေ အားလုံး၏ နောက်တွင် စွလားသ်လိုက်၍ ဝတ်ပြုခြင်း ပိုင်သည်။

**၅၅။** မုအ်မင်န်သည် အပြစ်ကျူးလွန်ခြင်းကြောင့် ထိုအပြစ်က သူ့ကို နစ်နာဒုက္ခရောက်စေမည် မဟုတ်ဟု ကျွန်ုပ်တို့ မပြောပါ။ ထို့ပြင် သူသည် လောကမှ မုအ်မင်န်အဖြစ်နှင့် ထွက်ခွာခဲ့ပါလျှင် အပြစ်ကျူးလွန်သူ ဖြစ်လင့်ကစား သူသည် ငရဲသို့ လားမည်မဟုတ်ဟုလည်း ကျွန်ုပ်တို့ မပြောပါ။ သူသည် ငရဲထဲတွင် ထာဝရနေရမည်ဟုလည်း ကျွန်ုပ်တို့ မပြောပါ။

**၅၆။** ကျွန်ုပ်တို့၏ ကောင်းမှုများသည် လက်ခံခြင်းခံရပြီး ကျွန်ုပ်တို့၏ မကောင်းမှုများသည် ခွင့်လွှတ်ခြင်းခံရမည်ဟုလည်း မုရ်ဂျိအဟ်တွေ ပြောသလို ကျွန်ုပ်တို့ မပြောပါ။ သို့သော် ကျွန်ုပ်တို့ ပြောသည်မှာ "အကြင်သူသည် ပျက်စီးစေသည့်

အပြစ်အနာအဆာများ မပါဝင်ဘဲ၊ ပျက်စီးစေသည့် အကြောင်းတရားများ မပါဘဲ၊ ကုဖ်ရ်နှင့်ဘာသာပျက်ခြင်းတို့မပါဘဲ စည်းကမ်းချက်များ အပြည့်အဝဖြင့် ကောင်းမှုတစ်ခု ပြုလုပ်ပြီး မုအ်မင်န်အဖြစ်နှင့် လောကကို ခွဲခွါခဲ့ပါက အလ္လာဟ်အရှင်မြတ်သည် သူ၏ ကောင်းမှုကို အချည်းနှီး လုပ်မည်မဟုတ်၊ သို့သာမက ယင်း ကောင်းမှုကို လက်ခံတော်မူပြီး ထိုအပေါ် အကျိုးကျေးဇူးပေးလိမ့်မည်”ဟုသာ ဖြစ်သည်။

**၅၇။** ရှရ်က်(တုဖက်ကိုးကွယ်မှုအဆင့်)နှင့် ကုဖ်ရ်(သွေဖည်မှု)အဆင့်ကို မရောက်သည့် မကောင်းမှုများကို ကျူးလွန်ခဲ့ပြီး သောင်ဗဟ်(အမှားဝန်ချ တောင်းပန်ခြင်း) မပြုဘဲ မုအ်မင်န် အဖြစ်နှင့် သေဆုံးခဲ့ပါက ထိုသူသည် အလ္လာဟ်အရှင်မြတ်၏ အလိုသဘောအတိုင်း ဖြစ်မည်။ သူ့ကို ငရဲဖြင့် ပြစ်ဒဏ်ခတ်ချင် ခတ်မည်။ ငရဲဖြင့် လုံးဝ အပြစ်ဒဏ်မခတ်ဘဲ ခွင့်လွှတ်လိုက ခွင့်လွှတ်တော်မူမည်။

## သေးငယ်သော ရှရိက်(တုဖက်မှု)

**၅၈။** လုပ်ရပ်တစ်ခုခုတွင် ပြစားမှုပါဝင်ပါက ယင်း၏ အကျိုးပျက်စီးမည်ဖြစ်သည်။ ကိုယ့် ကိုယ်ကိုယ် အထင်ကြီးမှုလည်း ထိုနည်းအတိုင်းပင် ဖြစ်သည်။

မုအ်ဂျိဇာဟ်(တန်ခိုးတော်များ)၊ ကရာမသ်များနှင့် အစ်သိဒ်ရာဂ်

**၅၉။** နဗီတမန်တော်များအဖို့ မုအ်ဂျိဇာဟ်များ ရှိပါသည်။ ထို့ပြင် ဝလီ သူတော်စင်များတွင် ကရာမသ် ရှိသည်မှာ မှန်ပေသည်။

**၆၀။** အရှင်မြတ်၏ ရန်သူများ ဖြစ်သည့် - ပမာအားဖြင့် အိဗ်လီးစ်၊ ဖိရ်အောင်န်၊ ဒဂ်ဂျာလ်တို့ထံတွင် ဖြစ်ပေါ်သော၊ သူတို့ထံတွင် ဖြစ်ပေါ်ခဲ့သည်၊ ဖြစ်ပေါ်မည်ဟု ဟဒီးဆ်တော်များတွင် လာရှိထားသော အရာများကိုမူ ကျွန်ုပ်တို့သည် မုအ်ဂျိဇာဟ်၊ ကရာမသ်ဟု မခေါ်ပါ။ သို့သာမက ယင်းကို ကျွန်ုပ်တို့က သူတို့၏ လိုအင်ကို ဖြည့်ဆည်းပေးခြင်းဟုသာ ခေါ်ပါမည်။ အကြောင်းမှာ အလ္လာဟ်အရှင်မြတ်သည် ကြိုးရှည်ရှည်နှင့် လှန်ထားသောအားဖြင့်၊ အပြစ်ဒဏ်ခတ်သောအား ဖြင့် မိမိရန်သူများ၏ လိုအင်ကို ဖြည့်ပေးတော်မူလေ့ရှိသည်။ ယင်းကြောင့် သူတို့သည်

အထင်မှား လှည့်ဖြားခံရပြီး သွေဖည်မှုတွင် ပိုမိုတိုးပွားသွားကြသည်။ ထိုအရာ အားလုံးသည် ဖြစ်နိုင် ပါသည်။

## အာခိရသ် (နောင်တမလွန်) ဘဝတွင် အလ္လာဟ်အရှင်မြတ်ကို မြင်တွေ့ရခြင်း

**၆၁။** အလ္လာဟ်အရှင်မြတ်သည် မဖန်ဆင်းခင်ကတည်းက ဖန်ဆင်းရှင် ဖြစ်ခဲ့သည်။ ရိဇ္ဇ္ဇာ မချီးမြှင့်ခင်ကတည်းက ရိဇ္ဇ္ဇာချီးမြှင့်သည့်အရှင် ဖြစ်ခဲ့သည်။

**၆၂။** အလ္လာဟ်အရှင်မြတ်ကို နောင်မလွန်မှာ မြင်ရမည်။ အရှင်မြတ်ကို မုအ်မင်န်တို့သည် ဂျန္နသ်တွင် မျက်စိဖြင့်တပ်အပ်မြင်ကြပေမည်။ သို့သော် အခြားအရာနှင့် တူဆင်ခြင်းမရှိဘဲ၊ မည်သို့မည်ပုံဟူ၍ မပါဘဲ မြင်ကြမည်။ အရှင်မြတ်နှင့် အရှင်မြတ်၏ အဖန်ဆင်းခံတို့ကြားတွင် အကွာအဝေးရှိမည် မဟုတ်ပေ။

## အီမာန်၏ဖွင့်ဆိုမှု

**၆၃။** အီမာန်ဆိုသည်မှာ ဝန်ခံခြင်းနှင့် ထောက်ခံခြင်းဖြစ်သည်။

**၆၄။** မိုးကောင်းကင်သားများနှင့် မြေပထဝီသားများ၏ အီမာန်သည် အီမာန်၏ အခြေအမြစ်တွင် တိုးခြင်း၊ လျော့ခြင်းမရှိပေ။ ယုံကြည်မှုနှင့် ထောက်ခံမှုတွင်သာ တိုးခြင်း၊ လျော့ခြင်း ရှိသည်။

**၆၅။** မုအ်မင်န်များသည် အီမာန်နှင့်သောင်ဟီးဒ်တွင် တန်းတူပင် ဖြစ်သည်။ လုပ်ရပ်များအရသာ အဆင့်အတန်း ကွဲပြားကြသည်။

# အစ္စလာမ်နှင့် အီမာန်၏ ပတ်သက်မှု

**၆၆။** အစ္စလာမ်ဆိုသည်မှာ အလ္လာဟ်အရှင်မြတ်၏ အမိန့်တော်များရှေ့တွင် ကိုယ့်ကိုယ်ကိုယ် ယုံပုံအပ်နှင်းခြင်း ဖြစ်သည်။

**၆၇။** အဘိဓါန်အရတော့ အစ္စလာမ်နှင့်အီမာန်သည် ကွဲပါသည်။ သို့သော် အစ္စလာမ်မရှိလျှင် အီမာန်မရှိပါ။ အီမာန်မရှိလျှင်လည်း အစ္စလာမ်မရှိပါ။ ထိုနှစ်ခုသည် ဗိုက်နှင့်ကျောကဲ့သို့ ဖြစ် သည်။

# အလ္လာဟ်အရှင်မြတ်ကို သိခြင်း။

**၆၈။** ဒီးန်သာသနာဆိုသည်မှာ အီမာန်၊ အစ္စလာမ်နှင့် ရှရီအသ်အားလုံးကို ပေါင်း၍ ခေါ်သော နာမည် ဖြစ်ပေသည်။

**၆၉။** ကျွန်ုပ်တို့သည် အလ္လာဟ်အရှင်မြတ်ကို အရှင်မြတ်က မိမိကျမ်းတော်ထဲတွင် ကိုယ့်ကိုယ် ကိုယ် ဖော်ပြထားသော စွေဖားသ်ဂုဏ်ရည်တော်များအားလုံးနှင့်အတူ သိအပ်သည့်အတိုင်း သိ နိုင်ပေသည်။

**၇၀။** သို့ရာတွင် မည်သူမှ အလ္လာဟ်အရှင်မြတ်ကို ထိုက်တန်သည်နှင့်အညီ မကိုးကွယ်နိုင်ပါ။ သို့သော်လည်း (အကောင်းဆုံးနည်းမှာ) အရှင်မြတ်က မိမိကျမ်းတော်နှင့် မိမိတမန်တော်၏ စွန္နသ်တော်တွင် အမိန့်ပေးထားသလိုသာ အရှင်မြတ်ကို ဗန္ဒာကျေးကျွန်က ကိုးကွယ်ရမည်။

**၇၁။** မုအ်မင်န်အားလုံးသည် သိခြင်း၊ ယုံကြည်ခြင်း၊ ယုံပုံအားကိုးခြင်း၊ ချစ်ခြင်း၊ နှစ်သက်ခြင်း၊ ကြောက်ခြင်း၊ မျှော်လင့်ခြင်းနှင့် အီမာန်တွင် (တာဝန်ပေးခံရခြင်းမှာ) အတူတူပင် ဖြစ်သည်။ သို့သော် အီမာန်အပြင် ကျန်အရာအားလုံးတွင် တစ်ဦးနှင့် တစ်ဦး မတူညီကြပေ။

## အလ္လာဟ်အရှင်မြတ်ဘက်မှ စည်းစိမ်ပေးခြင်းသည် ကျေးဇူးပြုခြင်းဖြစ်ပြီး၊ ပြစ်ဒဏ်ခတ်ခြင်းသည် မျှတမှုဖြစ်ခြင်း

**၇၂။** အလ္လာဟ်အရှင်မြတ်သည် မိမိဗန္ဒကျေးကျွန်များပေါ်တွင် ကျေးဇူးပြုသူ၊ မျှတသူဖြစ်သည်။ တစ်ခါတလေ ကျေးကျွန်ကို ကျေးဇူးပြုသောအားဖြင့် သူထိုက်သည်ထက်ပို၍ ချီးမြှင့်သည်။

**၇၃။** တစ်ခါတစ်ရံ ကျေးကျွန်ကို သူ၏ ပြစ်မှုပေါ်တွင် မျှတစွာ ပြစ်ဒဏ်ခတ်သည်။ တစ်ခါတလေ ကျေးဇူးပြု၍ ခွင့်လွှတ်တော်မူသည်။

## နဗီတမန်တော်များ၏ ကြားဝင်အသနားခံပေးခြင်း၊ အကြီးကျယ်ဆုံး အသနားခံမှုကို တမန်တော်မြတ်(ဆွ)က ရမည်ဖြစ်ခြင်း၊ ထို့ပြင် မီဇာန်နှင့်ရေကန် အကြောင်း။

**၇၄။** နဗီတမန်တော်များ၏ ကြားဝင်အသနားခံပေးခြင်းသည် အမှန်ပင် ဖြစ်သည်။

**၇၅။** ကျွန်ုပ်တို့၏ တမန်တော်မြတ်(ဆွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)သည် အပြစ်ကျူးလွန်ထားသော မုအ်မင်န်များနှင့် ပြစ်ဒဏ်ထိုက်တန်ကြသော အပြစ်ကြီးကျူးလွန်ထားသူများကို အသနားခံပေးမည်မှာလည်း အမှန်ပင် ဖြစ်မည်။

**၇၆။** ကိယာမသ်နေ့တွင် လုပ်ရပ်များကို ချိန်မည်မှာလည်း အမှန်ပင် ဖြစ်သည်။

**၇၇။** တမန်တော်မြတ်(ဆွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)၏ ရေကန်တော်သည်လည်း အမှန်ပင် ရှိသည်။

**၇၈။** အမှုသည်များ အကြားတွင် ကောင်းမှုများဖြင့် လျော်ကြေးအစား ပေးရမည်မှာလည်း အမှန်ပင် ဖြစ်သည်။ အစားလျော်စရာ ကောင်းမှုမရှိလျှင် (အစားရမည့်သူ၏) မကောင်းမှုများကို ထို(အစားပေးရမည့်)သူအပေါ်တွင် ပုံချခြင်းခံရမည်မှာလည်း တရားသော အမှန်တရားပင် ဖြစ်သည်။

## သုခဘုံနှင့်ငရဲဘုံတို့သည် ပျက်စီးသွားမည်မဟုတ်

**၇၉။** ဂျန္နသ်နှင့်ငရဲတို့သည် ဖန်ဆင်းထားပြီးသား ဖြစ်၍ ယနေ့ ရှိနေသည်။ ဘယ်တော့မှ ပျက်စီးသွားမည်မဟုတ်။ (ဂျန္နသ်တွင်းက ကညာပျို) ဟူးရ်အီးန်သည် ဘယ်တော့မှ သေမည်မဟုတ်ပေ။

**၈၀။** အလ္လာဟ်အရှင်မြတ်၏ ပြစ်ဒဏ်ခတ်ခြင်းနှင့် အကျိုးဆဝါးဗ်ပေးခြင်းသည် ထာဝရရှိမည်။ ဘယ်တော့မှ ပျက်သုဉ်းသွားမည်မဟုတ်ပေ။

## ဟိဒါယသ်နှင့် ဒွလာလသ်

**၈၁။** အလ္လာဟ်အရှင်မြတ်သည် မိမိအလိုရှိသူကို ကျေးဇူးပြု၍ လမ်းမှန်ပေးတော်မူသည်။

**၈၂။** လမ်းလွဲစေလိုသူကို တရားသဖြင့် လမ်းလွဲစေသည်။ အရှင်မြတ်၏ လမ်းလွဲစေခြင်းဟူသည်မှာ မကူညီခြင်းကို ဆိုလိုသည်။ မကူညီခြင်းဆိုသည်မှာ အရှင်မြတ်နှစ်သက်သည့် လုပ်ရပ်ကို လုပ်နိုင်ဖို့ အရှင်မြတ်က ထိုသူ့ကို သောင်ဖီးက်မပေးခြင်းကို ဆိုလိုပေသည်။ ထိုသို့ လုပ်ခြင်း သည် အရှင်မြတ်၏ တရားမျှတမှုပင် ဖြစ်သည်။

**၈၃။** ထို့အတူ မကူညီဘဲ ပစ်ထားခြင်းခံရသူကို သူ၏ ဖီဆန်မှုပေါ်မှာ အပြစ်ဒဏ်ခတ်ခြင်းသည်လည်း အရှင်မြတ်၏ တရားမျှတမှုပင် ဖြစ်သည်။

**၈၄။** ရှိုင်သွာန်သည် မုအ်မင်န်ကျွန်၏ အီမာန်ကို အတင်းအဓမ္မလုယူသည်ဟု ကျွန်ုပ်တို့ ပြောလို့ မပိုင်ပါ။ သို့ရာတွင် ကျွန်သည် အီမာန်ကို စွန့်လွှတ်လိုက်သည်။ ထိုအခါတွင် ရှိုင်သွာန်က သူ၏ အီမာန်ကို လုယူလိုက်သည်ဟုသာ ကျွန်ုပ်တို့ ပြောသည်။

## ဇရ်ဇက်ခ်လောကနှင့် ကဗရ်အဇာဒ်

**၈၅။** မွန္ကကရ်နှင့် နကီးရ်တို့သည် ကဗရ်သင်္ချိုင်းတွင် မေးမြန်းကြမည်မှာ ဖြစ်လာမည့် အမှန် တရားတစ်ခု ဖြစ်သည်။

**၈၆။** ကဗရ်သင်္ချိုင်းတွင် ကျွန်၏ ခန္ဓာထဲသို့ ဝိညာဉ်ပြန်၍ ထည့်သွင်းခြင်းခံရမည်မှာ အမှန် ဖြစ်သည်။

**၈၇။** ကဗရ်သင်္ချိုင်း၏ ဖိညှပ်ခြင်းနှင့် ပြစ်ဒဏ်သည် ကာဖိရ်အားလုံးအတွက်နှင့် အပြစ်ကျူး လွန်သော မုအ်မင်န်အချို့အတွက် ဖြစ်မည်။ ယင်းသည် ဖြစ်လာမည့် အမှန်တရားတစ်ခု ဖြစ် သည်။

## သန့်ရှင်းသော သောင်ဟီးဒ်ကို အလေးအနက်ထားခြင်း၊ အလ္လာဟ် အရှင်မြတ်ကို အခြားအရာနှင့် နှိုင်းယှဉ်ခြင်းကို ပယ်ခြင်း

**၈၈။** အလ္လာဟ်အရှင်မြတ်၏ ဇွေဖားသ်ဂုဏ်တော်များအနက် ပညာရှင်တွေ ဖာရစီလို ဖော်ပြသည့် အရာတိုင်းကို ပြောပိုင်ပါသည်။ သို့သော် ဖာရစီလို ပြောသည့် လက်ကိုတော့ အသုံးပြုခြင်း မပိုင်ပါ။ ထို့ပြင် ဗရူအေခုဒါယီး (အလ္လာဟ်အရှင်မြတ်၏ မျက်နှာတော်၏ ကစမ်) ဟုလည်း ပြောလို့ ပိုင်ပါသည်။ သို့သော် ခိုင်းနှိုင်းမှုနှင့် မည်သို့မည်ပုံဟူသော ပုံစံမပါရပေ။

## ဝေးခြင်းနှင့် နီးခြင်း၏ အဓိပ္ပာယ်

**၈၉။** အလ္လာဟ်အရှင်မြတ်၏ နီးခြင်း၊ ဝေးခြင်းတို့သည် အကွာအဝေး နီးခြင်း၊ ဝေးခြင်းမဟုတ်။ (တစ်ဦးတစ်ယောက်၏) ဂုဏ်ရှိခြင်းနှင့် သိက္ခာမဲ့ခြင်းကို ဆိုလိုပေသည်။ အမိန့်နာခံသူသည် ပုံစံမပါဘဲ အလ္လာဟ်အရှင်မြတ်နှင့် နီးသည်။ အပြစ်ကျူးလွန်သူသည် ပုံစံမပါဘဲ အလ္လာဟ် အရှင်မြတ်နှင့် ဝေးသည်။

**၉၀။** နီးကပ်ခြင်း၊ ဝေးခြင်း၊ ရှေ့တိုးခြင်းတို့သည် အလ္လာဟ်နှင့် တီးတိုးစကားပြော သူပေါ်မှာ မူတည်ပါသည်။

**၉၁။** ဂျန္နသ်၌ အရှင်မြတ်ဘေးမှာ နေရခြင်း၊ အရှင်မြတ်ရှေ့မှာ ရပ်ရခြင်းတို့၏ ဆိုလိုရင်းမှာလည်း ထိုအတိုင်းပင် ဖြစ်သည်။ မည်သို့မည်ပုံ ဟူ၍ ပုံစံမပါရပေ။

## ကုရ်အာန်ကျမ်းအာယတ်တော်များ၏ ထူးမြတ်မှု

**၉၂။** ကုရ်အာန်ကျမ်းမြတ်သည် တမန်တော်မြတ်(ဆွ)အပေါ် ချပေးခြင်းခံရပါ သည်။ ထိုကျမ်းကို စာအုပ်များတွင် ရေးထားပါသည်။

**၉၃။** ကုရ်အာန်၏ အာယတ်တော်များသည် (အလ္လာ့ဟ်)စကားဖြစ်သည့်အတွက် ထူးမြတ်မှု သာပိုမှုနှင့် ကြီးကျယ်ခန်းနားမှုတွင် တန်းတူပင် ဖြစ်သည်။ သို့သော် လည်း အချို့အာယတ်များ တွင် ဖော်ပြချက်၏ ထူးမြတ်မှုနှင့် ဖော်ပြခြင်းခံရသူ၏ ထူးမြတ်မှု ပါဝင်သည်။ ပမာအားဖြင့် အာယသုလ်ကုရ်စီဖြစ်သည်။ ထိုထဲတွင် ဖော်ပြခြင်းခံရသည်မှာ အလ္လာဟ်အရှင်နှင့် အရှင်မြတ်၏ ကြီးကျယ်မှု၊ အရှင်မြတ် ၏ ဂုဏ်ရည်တော်များ ဖြစ်သည်။ ထို့ကြောင့် ယင်းအာယတ်တော်တွင် ဖော်ပြ ချက်၏ ထူးမြတ်မှုနှင့် ဖော်ပြခြင်းခံရသူ၏ ထူးမြတ်မှု စုရုံးပါဝင်သွားသည်။

**၉၄။** အချို့အာယတ်တော်များတွင် ဖော်ပြချက်၏ ထူးမြတ်မှုသာ ပါသည်။ ဥပမာ ကာဖိရ်များ၏ အကြောင်းအရာ။ ယင်းအာယတ်တော်တွင် ဖော်ပြခြင်းခံရသူ၌ မည်သည့် ထူးမြတ်မှုမျှမရှိပါ။ ထိုသူများမှာ ကာဖိရ်များ ဖြစ်သည်။

**၉၅။** ထိုအတိုင်းပင် နာမတော်များ၊ စွေဖားသ်ဂုဏ်တော်များသည် ကြီးကျယ်မှု၊ ထူးမြတ်မှုမှာ အားလုံး တန်းတူပင် ဖြစ်သည်။ မည်သည့်ကွာခြားမှုမျှ မရှိပါ။

## တမန်တော်မြတ်(ဆွ)၏ သာသမီးများ

**၉၆။** ကာစင်မ်၊ သွာဟိရ်၊ အိဗ်ရာဟီးမ်တို့သည် တမန်တော်မြတ် (ဆွလ္လလ္လာဟို့ အလိုင်ဟိဝစလ္လမ်)၏ သားတော်များ ဖြစ်ခဲ့ကြသည်။ ဖာသွေမာဟ်၊ ရုကိုင်ယာ၊

ဇိုင်နဗ်၊ အွမ္မေ့ကုလ်ဆူမ် (ရသွေ့ယလ္လာဟို့အန်ဟွံမ်)တို့သည် တမန်တော်မြတ် (ဆွလ္လလ္လာဟို့အလိုင်ဟိဝစလ္လမ်)၏ သမီးတော်များ ဖြစ်ခဲ့ကြသည်။

# အလ္လာဟ်အရှင်မြတ်ထံသို့ လွှဲအပ်ခြင်းနှင့် ပညာရှာဖွေခြင်းသည် အရေးကြီးခြင်း

**၉၇။** လူသားထံတွင် သောင်ဟီးဒ်၏အသိပညာ နက်နဲမှုထဲက တစ်စုံတစ်ရာ နား လည်ရခက်ခဲခဲ့ပါက သူသည် မေးမြန်းရန် ပညာရှင်တစ်ပါးပါးကို မတွေ့ရမချင်း လက်တလောတွင် အလ္လာဟ်အရှင်မြတ်ထံတွင် အမှန်တရားဖြစ်မည့်အရာကို ယုံကြည်ထားရမည်။ ထိုအသိကို ရှာဖွေဆည်းပူးရာတွင် နောက်ဆိုင်းခွင့်မရှိပေ။ မည်သို့မျှ မမှတ်ယူဘဲ ကြားနေအယူအဆ အတိုင်း နေလျှင်လည်း ခွင့်လွှတ်ခြင်း ခံရမည်မဟုတ်ပေ။ အကယ်၍ မည်သို့မျှ မမှတ်ယူဘဲ ကြားနေအယူအဆအတိုင်း နေလျှင် ကာဖိရ်ဖြစ်မည်။

## ကိယာမသ်၏ လက္ခဏာများ

**၉၈။** မိအ်ရားဂျ်(ကောင်းကင်ခရီး)အကြောင်းသည် အမှန်ဖြစ်သည်။ ယင်းကို ပယ် ချသူသည် လမ်းလွဲသော ဗိဒ်အသီဖြစ်သည်။

**၉၉။** ဒဂ်ျဂျာလ်ထွက်ပေါ်ခြင်း၊ ယအ်ဂျူဂျ်မာအ်ဂျူဂျ်ထွက်ပေါ်ခြင်း၊ အနောက် အရပ်မှ နေထွက်ခြင်း၊ မိုးကောင်းကင်မှ အီဆာနဗီ ဆင်းသက်ခြင်း၊ ထို့ပြင် ကိယာ မသ်နှင့် ပတ်သက်၍ မှန်ကန် ခိုင်လုံသော ဟဒီးဆ်တော်များတွင် လာရှိထားသည့် လက္ခဏာများအားလုံးသည် ဖြစ်လာမည့် အမှန်တရား ဖြစ်သည်။

အလ္လာဟ်အရှင်မြတ်သည် အလိုရှိသူအား ဖြောင့်မတ်သော လမ်းကို ပြသပို့ဆောင် ပေးတော်မူသည်။

## ဘာသာပြန်ဆိုသူ- မုဖ်သီဖိုင်စွာလ် ကာစိမီ (တန့်ယန်း)

ဘာသာပြန်ရာတွင် အတတ်နိုင်ဆုံး မလွဲချော်အောင် ဒီကျမ်း၏ အဖွင့်ကျမ်းများ၊ အခြားဘာသာတွင် ပြန်ထားသော ဘာသာပြန်ကျမ်းများကိုလည်း ကြည့်ရှုလေ့လာကိုးကားခဲ့ပါသည်။

ထိုကျမ်းများကို ပုံနှင့်တကွ ထည့်ပေးလိုက်ပါသည်။

# شرح الفقه الأكبر

المتن المنسوب إلى الإمام أبي حنيفة النُّعْمان بن ثابت الكوفي

(٨٠ - ١٥٠ هـ)

شرحه الإمام

أبو منصور محمّد بن محمّد بن محمود الحنفي السّمرقندي

تغمّده الله بالرّحمة والرضوان

(٣٣٣ هـ)

عُني بطبعه ومُراجعته

خادم العلم

عبد الله بن إبراهيم الأنصاري

طُبع على نفقة الشئون الدينيّة

بدولة قطر

# الفقه الاکبر

تالیف

امام ابوحنیفۃ نعمان بن ثابت

۸۰ھ — ۱۵۰ھ

علمی مرکز

TooBaa-Research-Library

# الفقہ الاکبر

## تالیف: امام ابو حنیفہؒ نعمان بن ثابت

مترجم وشارح: ڈاکٹر عبد الرحیم اشرف بلوچ

مقدمہ: ڈاکٹر محمد میاں صدیقی

پیشکش: طوبیٰ ریسرچ لائبریری

toobaa-elibrary.blogspot.com/

# الفقه الأكبر

للإمام الأعظم أبي حنيفة النعمان بن ثابت الكوفي

تـ 150 هـ رضي الله تعالى عنه

علّق عليه وشرحه

الفقير إلى ربه الغني

محمد بن يحيى النينوي الحسيني

# AL-FIQH AL-AKBAR

(THE GREAT FIQH)

*By*

*Al-Imam Al-A'tham Abu Hanifah (R.A.) (90-150H.)*

*Comments and Translation*

*by*

***Muhammad bin Yahya Ninowy***

*May Allah forgive him, his fathers, and all believers.*